၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုမည့်သူများ၏ -

(က) အမည် -

(ခ) အဖအမည် -

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် -

(ဃ) နေရပ်လိပ်စာ -

(င) လူမျိုး၊ ဘာသာ -

(စ) အဖွဲ့အစည်းအမည် -

(ဆ) လုပ်ငန်းအမျိုးအစား -

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် -

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - တန်(၁၆၀)ဆန့် အအေးခန်းသိုလှောင်ရုံ တည်ဆောက် ၍ သန့်ရှင်း လတ်ဆတ် သော ငါး၊ ပုဇွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း -

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - လီမိတက်ကုမ္ပဏီ(နောက်ဆက်တွဲဇယား - ၁)

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်းပုံသဏ္ဌာန် -

(က) တစ်ဦးတည်းပိုင် -
(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း -
(ဂ) လီမိတက် ကုမ္ပဏီ - MYIK ZENITH INDUSTRIAL CO.,LTD
(ဃ) သမဝါယမအသင်း -

၆။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက -
(က) အစုဝင်တို့က ထည့်ဝင်မည့် အစုငွေ အမျိုးအစားနှင့် ပမာဏ -
(ခ) အကျိုးအမြတ် ခွဲဝေမည့် အမျိုးအစား -
(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ -

၇။ သမဝါယမအသင်း/ လီမိတက် ကုမ္ပဏီဖြစ်ပါက -
(က) ခွင့်ပြု မတည်ငွေရင်း - ကျပ် ၁၀၀၀,၀၀၀,၀၀၀(ကျပ်သန်းတစ်ထောင်တိတိ)
(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ် ၁၀၀၀၀/-(ကျပ် တစ်သောင်းတိတိတန်) သာမန် အစုရှယ်ယာ ၁၀၀,၀၀၀ (တစ်သိန်း)
(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ကျပ် ၇၀,၀၀၀,၀၀၀/-( ကျပ် သိန်းခုနစ်ရာတိတိ )
တစ်စုလျှင်ကျပ်၁၀,၀၀၀/-(ကျပ် တစ်သောင်းတိတိတန်)အစုရှယ်ယာ ၇၀၀၀(ခုနစ်ထောင်)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ငွေရင်းပမာဏ(ယခုအဆိုပြုလုပ်ငန်းအတွက်) (ကျပ်)

| | | |
|---|---|---|
| (၁) | ငွေပမာဏ | ၂၂,၀၀၀,၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများ | - |
| (၃) | အဆောက်အဦး(နောက်ဆက်တွဲဖယား-၂) | ၁၂,၀၀၀,၀၀၀ |
| (၄) | စက်ပစ္စည်းကိရိယာများ(နောက်ဆက်တွဲဖယား-၃) US $ ၄၅၀,၀၀၀ | ၂,၇၀၀,၀၀၀ |
| (၅) | စက်ရုံဆောက်လုပ်ရေး ပစ္စည်းများ | - |

စုစုပေါင်း ထည့်ဝင်ရင်းနှီးငွေ ၃၆,၇၀၀,၀၀၀

( စက်ပစ္စည်းကရိယာများနှင့် စက်ရုံဆောက်လုပ်ရေး ပစ္စည်းများကို **MYEIK ZENITH INDUSTRIAL CO.,LTD** သည် မလေးရှားနိုင်ငံ၊ **HAISAN SDN BHD LTD.** ရွေ့ဆိုင်းငွေ ပေးချေစနစ် ( Deferred Payment System ) အရ ( ၃ ) နှစ် အကြွေးဖြင့် တစ်နှစ်လျှင် ၅ ရာခိုင်နှုန်း အတိုးနှုန်းဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။

(ခ) နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့်

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး | ၂,၇၀၀,၀၀၀ | ၄၅၀,၀၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူ ပစ္စည်းတန်ဖိုး | - | - |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | ၂,၇၀၀,၀၀၀ | ၄၅၀,၀၀၀ |

(ဂ) တည်ဆောက်မှုကာလ — ၆လ

(ဃ) ပမာဏစုစုစမ်းလေ့လာမှုပြုလုပ်မည့်ကာလ — ၄လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - တန်(၁၆၀)ဆန့်အအေးခန်းသိုလှောင်ရုံ တည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ငါးလုပ်ငန်း ဦးစီး ဌာနပိုင်၊ ကြို့ကုန်းကမ်းနား၊ အင်းစိန် မြို့နယ်၊ ရန်ကုန်မြို့ရှိ မြေနေရာ။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ခေတ်မီထုတ်လုပ်ခြင်းစနစ်

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| | | |
|---|---|---|
| ၁။ ဒီဇယ်ဆီ | - | ဂါလံ(၁၅၀၀၀) |
| ၂။ ဓါတ်ဆီ | - | ဂါလံ( ၂၄၀၀) |
| ၃။ စက်ဆီ၊ ချောဆီ | - | ဂါလံ( ၁၀၀) |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် -

| | | |
|---|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | - | ၃၅၀ KW |
| ၂။ ဒီဇယ်ဆီအင်ဂျင်စက်အား | - | (၃၀၀) H.P |
| ၃။ ဘိုင်လာအသုံးပြုအင်ဂျင်စက်အား | - | |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | - | |
| ၅။ ပေးပို့သည့် အခြားအား (ရေအား/လေအားစသည်များ) | - | |

(စ) နှစ်စဉ်ရေလိုအပ်ချက်

| | | |
|---|---|---|
| ၁။ တစ်နေ့ ရေလိုအပ်ချက်ဂါလံ | - | ဂါလံ( ၁၅၀၀) |
| ၂။ တစ်နှစ် ရေလိုအပ်ချက် | - | ဂါလံ(၄၅၀,၀၀၀) |

| | | |
|---|---|---|
| (ဆ) | နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်- | နောက်ဆက်တွဲဇယား (၄) |
| (ဇ) | အဆောက်အဦး လိုအပ်ချက် | (၁၂၀' x ၄၀') အဆောက် အဦး (၂) လုံး ငါးလုပ်ငန်း ဦးစီးဌာနပိုင်၊ ကြို့ကုန်းကမ်းနား၊ အင်းစိန် မြို့နယ်၊ ရန်ကုန်မြို့ရှိ (အလျား ၃၂၀' x အနံ ၁၁၀') အကျယ်အဝန်းရှိမြေ။ |
| (ဈ) | မြေနေရာ အမျိုးအစားနှင့်အကျယ်အဝန်း လိုအပ်ချက် | |
| (ည) | ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ ဆောင်ရွက်မည့်ဝန်ဆောင်မှု | နောက်ဆက်တွဲဇယား(၅) |
| (ဋ) | ရောင်းချမည့်စနစ် | ပြည်ပတင်ပို့ရောင်းချမှု (၁၀၀) ရာခိုင်နှုန်း<br>ပြည်တွင်းကျပ်ငွေဖြင့်ရောင်းချမှု (၀) ရာခိုင်နှုန်း |

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | ခန့်မှန်းခြေ<br>ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား - | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားငွေ | နောက်ဆက်တွဲဇယား - | (၈) |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - | (၅) |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား - | (၅) |
| (င) | နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား - | (၅) |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ - နောက်ဆက်တွဲဇယား -(၆)

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ -

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | |
|---|---|---|
| (က) | နှစ်စဉ် ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား -(၇) |
| (ခ) | နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲဇယား -(၇) |
| (ဂ) | နှစ်စဉ် အသားတင်အမြတ် | နောက်ဆက်တွဲဇယား -(၇) |
| (ဃ) | နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား -(၈) |
| (င) | အရင်းကျေကာလ | နောက်ဆက်တွဲဇယား - |
| (စ) | အခြား အကျိုးအမြတ်များ | နောက်ဆက်တွဲဇယား -(၉) |
| (ဆ) | အလုပ်အကိုင်သစ်များပေါ် ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲဇယား -(၆) |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်း ဖြစ်ပါက သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်း / ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်း နှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်း ဖြစ်ပါက လက်ရှိခြေအနေ နှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

( လျှောက်ထားသူ )

လက်မှတ်၊

အမည်၊ ဦးဇော်လင်း

ရာထူး၊ အုပ်ချုပ်မှုဒါရိုက်တာ

MYEIK ZENITH INDUSTRIAL CO.,LTD.

# MYEIK ZENITH INDUSTRIAL CO., LTD.

## LIST OF EXECUTIVES OF MYEIK ZENITH INDUSTRIAL CO.,LTD.

Exhibit No.I

| Sr No | Name | Citizenship N.R.C No/ Passport No | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | မြိတ် ထိပ်တန်း စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်ကို ကိုယ်စားပြုသူများ | | | | ကျပ်(၇၀)သန်း | 100% |
| ၁ | ဦးဇော်လင်း | LMDW - 009050 | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ် (၅၆)၊ ဘူတာရုံလမ်း၊ သမိုင်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၂ | ဒေါ်မြကန်သာ | MYGN - 009727 | ဒါရိုက်တာ | အမှတ် (၅၆)၊ ဘူတာရုံလမ်း၊ သမိုင်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ | | |
| | | | | စုစုပေါင်း ရင်းနှီးငွေ | ကျပ်(၇၀)သန်း | 100% |

# MYEIK ZENITH INDUSTRIAL CO., LTD.

## VALUE OF FACTORY BUILDING

Exhibit No.II

| Sr No | Description | Dimension | No. of Building | Estimate Cost |
|---|---|---|---|---|
| ( A ) | **Renovation Cost** | | | |
| 1 | Main Building | 120' x 40' | ( 2 ) No | 8,000,000.00 |
| 2 | Sump | | | 200,000.00 |
| 3 | Fence | | | 800,000.00 |
| 4 | Road & Drain | | | 3,000,000.00 |
| | TOTAL | Kats | | 12,000,000.00 |

# MYEIK ZENITH INDUSTRIAL CO., LTD.

## LIST OF MACHINERIES AND EQUIPMENT

Exhibit No. III

| Sr No. | Particulars | Qty | Unit Price In US$ | Value In US$ |
|---|---|---|---|---|
| A | **MACHINERIES & EQUIPMENT** | | | |
| 1 | **MYCOM'** N42B Compressor c/w 55 Kw Motor (NEW) | 1 Set | 14,400 | 14,400 |
| 2 | **MYCOM'** N62B Compressor c/w 37 Kw Motor,Starter | 1 Set | 13,000 | 13,000 |
| 3 | Contact Freezer 0.5 T/ 1.5 HR. | 1 Set | 16,000 | 16,000 |
| 4 | Oil Separator (NEW) | 1 Set | 1,200 | 1,200 |
| 5 | Evaporative Condenser (NEW) | 1 Set | 6,000 | 6,000 |
| 6 | Ammonia Receiver (NEW) | 1 Set | 2,000 | 2,000 |
| 7 | Intercooler (NEW) | 1 Set | 2,600 | 2,600 |
| 8 | Air Blast Unit Cooler, Water Defrost (NEW) | 1 Set | 5,000 | 5,000 |
| 9 | Polyurethane Insulation,Floor Foam Slabs For 100 Ton Coldstore (NEW) | 1 Lot | 1,400 | 1,400 |
| 10 | Suction Accumulator For Air Blast Freezer (NEW) | 1 Set | 1,200 | 1,200 |
| 11 | Electric Switchboard & Control Panel (NEW) | 1 Set | 4,500 | 4,500 |
| 12 | Valves And Control (NEW) | 1 Lot | 4,500 | 4,500 |
| 13 | Polyurethane Insulation Panel For 100 Ton Coldstore Of Dimensions : 36' X 29' X 13' | 1 Lot | 16,000 | 16,000 |
| 14 | Galvanized Unit Cooler For 100 Ton Coldroom, Water Defrost | 1 Unit | 5,500 | 5,500 |
| 15 | Suction Accumulator For 50 Ton Coldroom (NEW) | 1 Unit | 400 | 400 |
| 16 | Polyurethane Insulation Panel For Air Blast Freezer 22' X 14' X 11' (NEW) | 1 Lot | 5,500 | 5,500 |
| 17 | Polyurethane Insulation Panel For Ante Room 15' X 22' X 11' (NEW) | 1 Lot | 4,000 | 4,000 |
| 18 | Polyurethane Insulation Panel For 50 Ton Coldstore | 1 Lot | 9,000 | 9,000 |
| 19 | Unit Cooler For Ante Room (NEW) | 1 Unit | 1,000 | 1,000 |
| 20 | **BITZER'** Open Type Compressor c/w 7.5 Kw Motor, Belt Driven (NEW) | 1 Set | 1,000 | 1,000 |
| 21 | Unit Cooler For 50 Ton Coldstore, Water Defrost (NEW) | 1 Unit | 1,800 | 1,800 |
| 22 | Water Pump For Head Cooling & Defrosting (NEW) | 1 Unit | 1,000 | 1,000 |
| 23 | Transformer Model 315 | 1 Set | 7,000 | 7,000 |
| 24 | Generator (230 KVA) | 2 Sets | 12,000 | 24,000 |
| 25 | Air Condition (Split) | 4 Units | 1,000 | 4,000 |
| 26 | Oil Tanks (Capaity, 18000 Litre/Tank) | 2 Sets | 2,500 | 5,000 |
| 27 | Refrigeration & Electrical Equipment For 1 Set Air Blast Freezer (Capacity 2 MT / 6 HR) | 1 Lot | 65,000 | 65,000 |
| | SUB - TOTAL (1) | | | 222,000 |

Note:- US $ 222,000 will be imported by Deferred Payment System.

# MYEIK ZENITH INDUSTRIAL CO., LTD.

## LIST OF MACHINERIES AND EQUIPMENT

TO BE IMPORTED BY DEFERRED PAYMENT SYSTEM. Exhibit No. IIIA

| Sr No. | Particulars | Qty | Unit Price In US $ | Value In US $ |
|---|---|---|---|---|
| A | **MACHINERIES & EQUIPMENT** | | | |
| 28 | Truck ( With Cold Storage) | 4 Units | 16,000 | 64,000 |
| 29 | Cable and Accessories | 1 Lot | 164,000 | 164,000 |
| | SUB - TOTAL | | | 228,000 |
| | SUB - TOTAL (1) | | | 222,000 |
| | **TOTAL AMOUNT IN US$** | | | 450,000 |
| | **EQUIVALENT IN KYATS** | | | 2,700,000 |

Note :- Exchange Rate 1 US $ = Kyats 6.00

US $ 450,000 will be imported by Deferred Payment System.

ကျွန်တော်တို့တွင် တနင်္သာရီတိုင်း၊ မြိတ်မြို့၌ အအေးခန်းစက်ရုံ (၁) လုံးရှိပြီး၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် (မနသ-၁၁၁/၉၈) အရ (၂.၄.၉၈)နေ့မှ စတင်၍ လည်ပါတ်နေပါသည်။

ယခု ရန်ကုန်-မြိတ် ကားလမ်းမှာ ကောင်းမွန်နေပါ၍၊ ယခင်က သင်္ဘောငှားရမ်း၍ သယ်ယူရာတွင် စရိတ် ကြီးမားခြင်း၊ အန္တရာယ်ရှိခြင်း တို့ကြောင့် အအေးခန်းကားများဖြင့် မြိတ်မြို့ရှိ အအေးခန်းမှ ရန်ကုန်မြို့ရှိ အအေး ခန်းသို့ ငါး၊ ပုစွန် ကုန်ချောများ သယ်ယူမည် ဖြစ်ပါသည်။ တို့ကြောင့် Cold Storage Car များ ဝယ်ယူ တင်သွင်းခွင့် တောင်းခံခြင်းဖြစ်ပါသည်။

# MYEIK ZENITH INDUSTRIAL CO., LTD.

## VALUE OF RAW - MATERIAL

Exhibit No. IV

| Sr No. | | Particulars | A/U | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
|---|---|---|---|---|---|---|---|---|
| 1 | | **PURCHASE QTY** | | | | | | |
| | 1 | White Pomfret Fish | Viss | 30000 | 30000 | 30000 | 30000 | 30000 |
| | 2 | Ribbon Fish | Viss | 30000 | 30000 | 30000 | 30000 | 30000 |
| | 3 | Croaker Fish | Viss | 30000 | 30000 | 30000 | 30000 | 30000 |
| | 4 | Grouper Fish | Viss | 30000 | 30000 | 30000 | 30000 | 30000 |
| | 5 | Spanish Mackerel Fish | Viss | 30000 | 30000 | 30000 | 30000 | 30000 |
| | 6 | White Prawn | Viss | 50000 | 50000 | 50000 | 50000 | 50000 |
| | 7 | Tiger Prawn | Viss | 50000 | 50000 | 50000 | 50000 | 50000 |
| | 8 | Pink Prawn | Viss | 50000 | 50000 | 50000 | 50000 | 50000 |
| 2 | | **PURCHASE PRICE** | | | | | | |
| | 1 | White Pomfret Fish | KS/Viss | 1300 | 1335 | 1370 | 1405 | 1440 |
| | 2 | Ribbon Fish | KS/Viss | 350 | 360 | 370 | 380 | 390 |
| | 3 | Croaker Fish | KS/Viss | 500 | 515 | 530 | 545 | 560 |
| | 4 | Grouper Fish | KS/Viss | 500 | 515 | 530 | 545 | 560 |
| | 5 | Spanish Mackerel Fish | KS/Viss | 500 | 515 | 530 | 545 | 560 |
| | 6 | White Prawn | KS/Viss | 2200 | 2260 | 2320 | 2380 | 2440 |
| | 7 | Tiger Prawn | KS/Viss | 2500 | 2575 | 2650 | 2725 | 2800 |
| | 8 | Pink Prawn | KS/Viss | 2200 | 2260 | 2320 | 2380 | 2440 |
| 3 | | **PURCHASE VALUE** | | | | | | |
| | 1 | White Pomfret Fish | KS 000 | 39000 | 40050 | 41100 | 42150 | 43200 |
| | 2 | Ribbon Fish | KS 000 | 10500 | 10800 | 11100 | 11400 | 11700 |
| | 3 | Croaker Fish | KS 000 | 15000 | 15450 | 15900 | 16350 | 16800 |
| | 4 | Grouper Fish | KS 000 | 15000 | 15450 | 15900 | 16350 | 16800 |
| | 5 | Spanish Mackerel Fish | KS 000 | 15000 | 15450 | 15900 | 16350 | 16800 |
| | 6 | White Prawn | KS 000 | 110000 | 113000 | 116000 | 119000 | 122000 |
| | 7 | Tiger Prawn | KS 000 | 125000 | 128750 | 132500 | 136250 | 140000 |
| | 8 | Pink Prawn | KS 000 | 110000 | 113000 | 116000 | 119000 | 122000 |
| | | TOTAL AMOUNT IN KYATS | | 439500 | 451950 | 464400 | 476850 | 489300 |

# MYEIK ZENITH INDUSTRIAL CO., LTD.

## GOODS TO BE PRODUCED

Exhibit No. V

| Sr No. | | Particulars | A/U | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
|---|---|---|---|---|---|---|---|---|
| 1 | | PRODUCTION QTY | | | | | | |
| | 1 | White Pomfret Fish | Ton | 33 | 33 | 33 | 33 | 33 |
| | 2 | Ribbon Fish | Ton | 33 | 33 | 33 | 33 | 33 |
| | 3 | Croaker Fish | Ton | 33 | 33 | 33 | 33 | 33 |
| | 4 | Grouper Fish | Ton | 33 | 33 | 33 | 33 | 33 |
| | 5 | Spanish Mackerel Fish | Ton | 33 | 33 | 33 | 33 | 33 |
| | 6 | White Prawn | Ton | 45 | 45 | 45 | 45 | 45 |
| | 7 | Tiger Prawn | Ton | 45 | 45 | 45 | 45 | 45 |
| | 8 | Pink Prawn | Ton | 45 | 45 | 45 | 45 | 45 |
| 2 | | EXPORT SALE (PRICE) | | | | | | |
| | 1 | White Pomfret Fish | US$/Ton | 5500 | 5665 | 5830 | 5995 | 6160 |
| | 2 | Ribbon Fish | US$/Ton | 1540 | 1650 | 1760 | 1870 | 1980 |
| | 3 | Croaker Fish | US$/Ton | 2310 | 2376 | 2442 | 2508 | 2574 |
| | 4 | Grouper Fish | US$/Ton | 2310 | 2376 | 2442 | 2508 | 2574 |
| | 5 | Spanish Mackerel Fish | US$/Ton | 2310 | 2376 | 2442 | 2508 | 2574 |
| | 6 | White Prawn | US$/Ton | 13200 | 13585 | 13970 | 14355 | 14740 |
| | 7 | Tiger Prawn | US$/Ton | 15400 | 15840 | 16280 | 16720 | 17160 |
| | 8 | Pink Prawn | US$/Ton | 13200 | 13585 | 13970 | 14355 | 14740 |
| 3 | | EXPORT SALE VALUE | | | | | | |
| | 1 | White Pomfret Fish | US$ 000 | 181.50 | 186.95 | 192.39 | 197.84 | 203.28 |
| | 2 | Ribbon Fish | US$ 000 | 50.82 | 54.45 | 58.08 | 61.71 | 65.34 |
| | 3 | Croaker Fish | US$ 000 | 76.23 | 78.41 | 80.59 | 82.76 | 84.94 |
| | 4 | Grouper Fish | US$ 000 | 76.23 | 78.41 | 80.59 | 82.76 | 84.94 |
| | 5 | Spanish Mackerel Fish | US$ 000 | 76.23 | 78.41 | 80.59 | 82.76 | 84.94 |
| | 6 | White Prawn | US$ 000 | 594.00 | 611.33 | 628.65 | 645.98 | 663.30 |
| | 7 | Tiger Prawn | US$ 000 | 693.00 | 712.80 | 732.60 | 752.40 | 772.20 |
| | 8 | Pink Prawn | US$ 000 | 594.00 | 611.33 | 628.65 | 645.98 | 663.30 |
| | | TOTAL AMOUNT IN US$ | | 2342.01 | 2412.07 | 2482.13 | 2552.19 | 2622.25 |
| | | EQUIVALENT IN KYATS | | 14052.06 | 14472.42 | 14892.78 | 15313.14 | 15733.50 |

Note : (1) Exchange Rate 1 US$ = Kyats 6.00

# MYEIK ZENITH INDUSTRIAL CO., LTD.

## LIST OF PERSONNEL REQUIREMENT

Exhibit No.VI

| Sr No. | Description | No. of Requirement |
|---|---|---|
| A | **LOCAL PERSONNEL** | |
| 1 | Administrative Manager | 1 |
| 2 | Financial Manager | 1 |
| 3 | Marketing Manager | 1 |
| 4 | Factory Manager | 1 |
| 5 | Office Staff | 6 |
| 6 | Engineer | 2 |
| 7 | Production Supervisor | 6 |
| 8 | Skill Workers | 15 |
| 9 | Semi-Skilled Workers | 30 |
| 10 | Un-Skilled Workers | 130 |
| 11 | Driver | 4 |
| 12 | Guard Man | 6 |
| | Total | 203 |

# MYEIK ZENITH INDUSTRIAL CO., LTD.

## PARTICULAR RELATING TO ECONIMIC JUSTIFICATION

PROFIT & LOSS BUDGET IN THOUSAND (000)

Exhibit No. VII

| Sr No | | Particulars | Year 1 | | | Year 2 | | | Year 3 | | | Year 4 | | | Year 5-10 | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | US $ | Kyats | Equ: Ks. | US $ | Kyats | Equ: Ks. | US $ | Kyats | Equ: Ks. | US $ | Kyats | Equ: Ks. | US $ | Kyats | Equ: Ks. |
| 1 | | SALE INCOME | | | | | | | | | | | | | | | |
| | 1 | US $ Sale | 2342.01 | | 14052.06 | 2412.07 | | 14472.42 | 2482.13 | | 14892.78 | 2552.19 | | 15313.14 | 2622.25 | | 15733.50 |
| | 2 | Kyats Sale | | | | | | | | | | | | | | | |
| | | Sub-Total | 2342.01 | 0.00 | 14052.06 | 2412.07 | 0.00 | 14472.42 | 2482.13 | 0.00 | 14892.78 | 2552.19 | 0.00 | 15313.14 | 2622.25 | 0.00 | 15733.50 |
| 2 | | COST OF PRODUCTS | | | | | | | | | | | | | | | |
| | 1 | Raw Materials In US$ | | | | | | | | | | | | | | | |
| | 2 | Raw Materials In Kyats | | 439500.00 | 439500.00 | | 451950.00 | 451950.00 | | 464400.00 | 464400.00 | | 476850.00 | 476850.00 | | 489300.00 | 489300.00 |
| | 3 | Production & Overhead Cost | | 4000.00 | 4000.00 | | 4120.00 | 4120.00 | | 4240.00 | 4240.00 | | 4360.00 | 4360.00 | | 4480.00 | 4480.00 |
| | | Sub-Total | 0.00 | 443500.00 | 443500.00 | 0.00 | 456070.00 | 456070.00 | 0.00 | 468640.00 | 468640.00 | 0.00 | 481210.00 | 481210.00 | 0.00 | 493780.00 | 493780.00 |
| | | **Gross Profit** | **2342.01** | **-443500.00** | **-429447.94** | **2412.07** | **-456070.00** | **-441597.58** | **2482.13** | **-468640.00** | **-453747.22** | **2552.19** | **-481210.00** | **-465896.86** | **2622.25** | **-493780.00** | **-478046.50** |
| 3 | | EXPENDITURES | | | | | | | | | | | | | | | |
| | 1 | Salary & Wages | | 5000.00 | 5000.00 | | 5150.00 | 5150.00 | | 5300.00 | 5300.00 | | 5450.00 | 5450.00 | | 5600.00 | 5600.00 |
| | 2 | Electricity & Power | 45.00 | 3000.00 | 3270.00 | 47.00 | 3100.00 | 3382.00 | 49.00 | 3200.00 | 3494.00 | 51.00 | 3300.00 | 3606.00 | 53.00 | 3400.00 | 3718.00 |
| | 3 | Selling Expenses | 30.00 | 2000.00 | 2180.00 | 31.00 | 2060.00 | 2246.00 | 32.00 | 2120.00 | 2312.00 | 33.00 | 2180.00 | 2378.00 | 34.00 | 2240.00 | 2444.00 |
| | 4 | Repair & Maintenance | 50.00 | 1000.00 | 1300.00 | 51.50 | 1050.00 | 1359.00 | 53.00 | 1100.00 | 1418.00 | 54.50 | 1150.00 | 1477.00 | 56.00 | 1200.00 | 1536.00 |
| | 5 | Land Rental Fees | | 2670.10 | 2670.10 | | 2670.10 | 2670.10 | | 2670.10 | 2670.10 | | 2670.10 | 2670.10 | | 2670.10 | 2670.10 |
| | 6 | Other Expenditure | 28.71 | 3700.00 | 3872.26 | 29.07 | 3800.00 | 3974.42 | 29.44 | 3900.00 | 4076.64 | 29.80 | 4000.00 | 4178.80 | 30.16 | 4100.00 | 4280.96 |
| | 7 | Commercial Tax | 234.20 | | 1405.20 | 241.21 | | 1447.26 | 248.21 | | 1489.26 | 255.22 | | 1531.32 | 262.23 | | 1573.38 |
| | 8 | Interest On DPPV | 22.50 | | 135.00 | 15.00 | | 90.00 | 7.50 | | 45.00 | | | | | | |
| | 9 | Depreciation | 45.00 | 1200.00 | 1470.00 | 45.00 | 1200.00 | 1470.00 | 45.00 | 1200.00 | 1470.00 | 45.00 | 1200.00 | 1470.00 | 45.00 | 1200.00 | 1470.00 |
| | | Sub-Total | 455.41 | 18570.10 | 21302.56 | 459.78 | 19030.10 | 21788.78 | 464.15 | 19490.10 | 22275.00 | 468.52 | 19950.10 | 22761.22 | 480.39 | 20410.10 | 23292.44 |
| | | Net Profit | **1886.60** | **-462070.10** | **-450750.50** | **1952.29** | **-475100.10** | **-463386.36** | **2017.98** | **-488130.10** | **-476022.22** | **2083.67** | **-501160.10** | **-488658.08** | **2141.86** | **-514190.10** | **-501338.94** |
| | | Income Tax | | | | | | | | | | 312.55 | | 1875.30 | 321.28 | | 1927.67 |
| | | Total Net Profit | **1886.60** | **-462070.10** | **-450750.50** | **1952.29** | **-475100.10** | **-463386.36** | **2017.98** | **-488130.10** | **-476022.22** | **1771.12** | **-501160.10** | **-490533.38** | **1820.58** | **-514190.10** | **-503266.61** |

Note (1) Exchange Rate 1US$ = Kyats 6.00 (2) Interest on DPPV (Deferred Payment Purchase Value) is 5 % per annum

(3) Commercial Tax is calculated at 10 % for US$ Income.

# MYEIK ZENITH INDUSTRIAL CO., LTD.
## CAPITAL COST

(Kyats in Thousand) Exhibit No.VIII

| Sr No | Particular | Equity | Loan | Total |
|---|---|---|---|---|
| 1 | 2 | 3 | 4 | 5 |
| 1 | **Investment Type.** | | | |
| A | **LOCAL CAPITAL** | | | |
| 1 | In Cash | 22,000.00 | | 22,000.00 |
| 2 | In Building | 12,000.00 | | 12,000.00 |
| 3 | In Machineries & Equipment | | 2,700.00 | 2,700.00 |
| | **TOTAL CAPITAL** | **34,000.00** | **2,700.00** | **36,700.00** |

Note : Loan 2700000 Kyats is Equivalent in US $ 450000 for the value of Machineries and Equipment which purchased by the Deferred Payment System.

# MYEIK ZENITH INDUSTRIAL CO., LTD.

## FOREIGN EXCHANGE SAVING & LOCAL KYAT SAVING

Exhibit No.IX

| PARTICULARS | UNIT | Year-1 | Year-2 | Year-3 | Year-4 | Year-5-10 |
|---|---|---|---|---|---|---|
| Income In US $ | US$ 000 | 2342.01 | 2412.07 | 2482.13 | 2552.19 | 2622.25 |
| Equivalent In Kyats | Ks 000 | 14052.06 | 14472.42 | 14892.78 | 15313.14 | 15733.50 |
| Local Sale In Kyats | Ks 000 | Nil | Nil | Nil | Nil | Nil |
| **Total Income In Kyats** | Ks 000 | 14052.06 | 14472.42 | 14892.78 | 15313.14 | 15733.50 |
| **FOREIGN EXCHANGE SAVINGS** | | | | | | |
| Earning In US $ | US$ 000 | 2342.01 | 2412.07 | 2482.13 | 2552.19 | 2622.25 |
| Cost Of Products in F.E | US$ 000 | - | - | - | - | - |
| Expenditure in F.E | US$ 000 | 410.41 | 414.78 | 419.15 | 736.07 | 756.67 |
| Repayment for DPPV | US$ 000 | 150.00 | 150.00 | 150.00 | | |
| **Total Expenditure in F.E** | US$ 000 | 560.41 | 564.78 | 569.15 | 736.07 | 756.67 |
| **F.E Net Saving** | US$ 000 | 1781.60 | 1847.29 | 1912.98 | 1816.12 | 1865.58 |
| **LOCAL KYAT SAVINGS** | | | | | | |
| Earning From Local Sales | Ks 000 | Nil | Nil | Nil | Nil | Nil |
| Cost Of Products in Kyats | Ks 000 | 443500.00 | 456070.00 | 468640.00 | 481210.00 | 493780.00 |
| Expenditure in Kyats | Ks 000 | 17370.10 | 17830.10 | 18290.10 | 18750.10 | 19210.10 |
| **Total Expenditure in Kyats** | Ks 000 | 460870.10 | 473900.10 | 486930.10 | 499960.10 | 512990.10 |
| **Local Kyats Net Saving** | Ks 000 | -460870.10 | -473900.10 | -486930.10 | -499960.10 | -512990.10 |

Note: ( 1 ) Exchange Rate 1 US $ = Kyat 6.00

( 2 ) DPPV Deferred Payment Purchase Value.

# မြိတ်ထိပ်တန်း စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

## ရေဆိုးစွန့်ပြစ်မည့် အစီအစဉ် တင်ပြခြင်း

ကျွန်တော်တို့ ကုမ္ပဏီ၏ ငါးလုပ်ငန်း အအေးခန်း စက်ရုံမှ ထွက်ရှိ လာမည့် ရေဆိုးများအား အောက်ပါ အစီအစဉ်အတိုင်း စွန့်ပြစ်မည် ဖြစ်ပါသည်။

၁။ စက်ရုံပတ်မြောင်းမှ လာသည့် ရေဆိုးများအား မြေအောက်ကန် အတွင်း မဝင်ခင် အမှိုက်သရိုက်များအား ဇကာ ၂ ထပ်ဖြင့် စစ်ထုတ်၍ ရေဆိုးများအား မြေအောက်ကန်အတွင်း ဝင်စေမည် ဖြစ်ပါသည်။

၂။ ပထမ ရေနောက်ကန်အတွင်း ရေနောက်များအား ၂၄ နာရီ အနည်ထိုင်စေမည် ဖြစ်ပါသည်။

၃။ ပထမရေနောက်ကန်မှ ထွက်ရှိလာသောရေကြည်များအား သဲ၊ ကျောက်မီးသွေးနှင့် ကာဗွန်ဒိုင်အောက်ဆိုဒ် ခဲများ ခင်းထားသော ဒုတိယ ရေကြည်ကန်တွင် အနံ့အသက်များ ကင်းစင်စေမည် ဖြစ်ပါသည်။

၄။ အနံ့အသက်များ ကင်းစင်ပြီးသောရေကြည်များအား မြစ်အတွင်းသို့ စနစ်တကျစွန့်ပြစ်မည် ဖြစ်ပါသည်။

၅။ မြေအောက် ကန်များအား (၃)လ တကြိမ် သန့်ရှင်းရေး ပြုလုပ်ပြီး သဲ၊ ကျောက်မီးသွေး နှင့် ကာဗွန်ဒိုင်အောက်ဆိုဒ်အခဲများအား အသစ်လဲမည် ဖြစ်ပါသည်။

၆။ ကျွန်တော်တို့ ကုမ္ပဏီမှတင်သွင်းမည့် Valves And Control (NEW) နှင့် **BITZER** Open Type Compressor c/w 7.5 Kw Motor Belt Driven (NEW) စက်များသည် Waste Water Treatment အတွက် အသုံးပြုမည့် စက်များ ဖြစ်ပါသည်။

(signature)

ဦးဇော်လင်း
(အုပ်ချုပ်မှု ဒါရိုက်တာ)
MYEIK ZENITH INDUSTRIAL CO., LTD

# မြေနှင့်အဆောက်အဦးငှားရမ်းခြင်းသဘောတူစာချုပ်

ဤမြေနှင့် အဆောက်အဦး ငှားရမ်းခြင်း သဘောတူစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသော နောက်ဆက်တွဲများ အားလုံးကို ဤစာချုပ်၏ အရေးကြီးသော အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည် ဖြစ်ပြီး၊ (နောင်တွင် **"မြေငှားသဘောတူစာချုပ်"**ဟု ခေါ်တွင် စေရမည်) ဖြစ်သည်။ ဤမြေငှား သဘောတူ စာချုပ်ကို ၁၉၉၉ ခုနှစ်၊ ............................ လ။..............ရက်နေ့တွင် ရန်ကုန်မြို့၌ အောက်ပါအတိုင်း ပြုလုပ်ချုပ်ဆိုကြသည်မှာ–

**ငါးလုပ်ငန်းဦးစီးဌာန။** မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ၊ အမွေဆက်ခံခွင့်ရှိသူများနှင့် တရားဝင် ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်။) ဤသဘောတူစာချုပ်ပါ ရည်ရွယ်ချက်များ ထမြောက် အောင်မြင်စေရန်အလို့ငှာ ကိုယ်စားပြု တာဝန်ယူ ဆောင်ရွက်မည့်သူ ဦးသန်းထွန်း၊ ညွှန်ကြားရေးမှူးချုပ် ကတစ်ဖက်၊

– နှင့် –

**MYEIK ZENITH INDUSTRIAL CO., LTD.**၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ အရ တရားဝင်မှတ်ပုံတင် ဖွဲ့စည်းတည်ထောင်ထားသည့် အများနှင့်မသက်ဆိုင်သော မြန်မာကုမ္ပဏီဖြစ်ပြီး၊ အမှတ် (၃)၊ ရတနာမွန် (၆)လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့တွင် တည်ရှိသည်။ (နောင်တွင်**"အငှားချထားခြင်း ခံရသူ"** ဟုခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် စာသားအရ သော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ၎င်း၏ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ၊ အမွေဆက်ခံခွင့်ရှိသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်။) ဤသဘောတူစာချုပ်ပါ ရည်ရွယ်ချက်များ ထမြောက်အောင်မြင်စေရန် အလို့ငှာ၊ ကိုယ်စားပြု တာဝန်ယူ ဆောင်ရွက်မည့်သူ ဦးဇော်လင်း၊ မန်းနေးဂျင်းဒါရိုက်တာက အခြားတစ်ဖက်၊ တို့သည် ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ် ချက်များနှင့် အညီ အောက်ပါအတိုင်း ပြုလုပ်ချုပ်ဆိုကြပါသည်–

**အပိုဒ် – ၁ ရည်ရွယ်ချက်**

၁–၁ အငှားချထားသူသည် တရားဝင်အမည်ပေါက် ပိုင်ဆိုင်သော ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ အနောက် ကြို့ကုန်းရှိ ငါးလုပ်ငန်းဦးစီးဌာနပိုင် သိုလှောင်ရုံ အဆောက်အအုံ (၂)ခု အပါအဝင် ဧရိယာအကျယ် အဝန်းအား ဖြင့် (အလျား ၃၂၀' x အနံ ၁၁၀') စတုရန်းပေ ၃၅၂၀၀၊ (စတုရန်းမီတာအားဖြင့် ၃၂၇၀ စတုရန်းမီတာ)ရှိ မြေအား တရားဝင်ပိုင်ဆိုင်သူ ဖြစ်ပါသည်။ အငှားချထားသည့် မြေပုံနှင့် မြေပိုင်ဆိုင်မှု အထောက်အထားများကို **နောက်ဆက်တွဲ (၁)** အဖြစ် ပူးတွဲဖော်ပြအပ်ပါသည်၊

၁–၂ အငှားချထားခြင်း ခံရသူသည် အငှားချထားသူပိုင် အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်တွင် တည်ရှိနေသော အဆောက်အအုံ(၂)လုံး အကျယ်အဝန်းအားဖြင့် (၂အလျား ၁၂၀' x အနံ ၄၀') စတုရန်းပေ ၉၆၀၀၊(စတုရန်းမီတာအားဖြင့် ၈၉၂ စတုရန်းမီတာ) ရှိ အဆောက်အအုံ (၂)လုံးအား ငှားရမ်း၍၊ နိုင်ငံတကာအဆင့်မီ တန် (၁၆၀)ဆန့် – အအေးခန်းစက်ရုံ အဖြစ် ပြင်ဆင်မွမ်းမံ တည်ဆောက်ပြီး၊ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ် ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် ရည်ရွယ်ပါသည်။

၁-၃ အငှားချထားခြင်းခံရသူသည် အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုပမာဏ ကျပ်သန်းပေါင်း (၃၆.၇) ထည့်ဝင်၍ လုပ်ကိုင်ဆောင်ရွက်ကြမည် ဖြစ်ပါသည်။

## အပိုဒ် - ၂ ကိုယ်စားပြုခြင်းနှင့်အာမခံခြင်း

၂-၁ ဤသဘောတူ စာချုပ်တွင် လက်မှတ်ရေးထိုး ချုပ်ဆိုကြသည့် စာချုပ်ဝင်များ အနက်အငှားချထားသူသည် ငှားရမ်းမည့်မြေကို ဥပဒေနှင့်အညီ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်းနှင့် အငှားချထားခြင်းခံရသူသည် သက်ဆိုင်ရာ ဥပဒေများအရ ဤသဘောတူ စာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင် ခွင့်ရှိသော ပုဂ္ဂိုလ်ဖြစ်ပြီး၊ ဤသဘောတူစာချုပ်ကို ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့်ရှိသူ၊ အခွင့်အာဏာနှင့် စီးပွားရေးအရ ငွေရေးကြေးရေး နိုင်မာ တောင့်တင်းသူဖြစ်ကြောင်း အာမခံပါသည်။

## အပိုဒ် - ၃ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၃-၁ ဤသဘောတူ စာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များ အတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန၊ အာဏာပိုင် အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးမှသာ လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်၊

## အပိုဒ် - ၄ ဥပဒေအရ ဆောင်ရွက်ခြင်း

၄-၁ ဤသဘောတူစာချုပ် ပြုလုပ်ချုပ်ဆိုကြသူများသည် စာချုပ်ပါ တာဝန်ဝတ္တရားများ၊ လုပ်ငန်းအကောင်အထည် ဖော်မှုများ၊ လုပ်ငန်း ဆောင်ရွက်မှုများကို ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပါ ပြဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

## အပိုဒ် - ၅ ငှားရမ်းခြင်းသက်တမ်းကာလ

၅-၁ ဤသဘောတူ စာချုပ်ပါ ငှားရမ်းခြင်း သက်တမ်းကာလမှာ ဤသဘောတူစာချုပ် စတင်အကျိုးသက်ရောက်သည့်နေ့မှ ကနဦး (၁၀)နှစ် ဖြစ်ပါသည်။

၅-၂ ဤသဘောတူ စာချုပ်ပါ ကနဦး ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါ နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် ထပ်မံတိုးမြှင့် ငှားရမ်းခွင့် ရှိစေရမည်။

၅-၃ ဤသဘောတူ စာချုပ်ပါ ငှားရမ်းခြင်း သက်တမ်း တိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်မှု ရှိစေရမည်။

၅-၄ အငှားချထားသူသည် အငှားချထားသည့် မြေနှင့် အဆောက်အအုံများကို ဤသဘောတူစာချုပ်အား တရားဝင် အတည်ပြု လက်မှတ်ရေးထိုးသည့် နေ့မှစ၍ အငှားချထားခြင်း ခံရသူသို့ လွှဲပြောင်းပေးအပ် ရမည်။

**အပိုဒ် - ၆ စာချုပ်အကျိုးသက်ရောက်သည့်နေ့**

၆-၁ ဤသဘောတူ စာချုပ်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးနောက်၊ စာချုပ်ဝင် ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင် အတည်ပြု လက်မှတ်ရေးထိုး ချုပ်ဆိုသည့်နေ့မှ စတင်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

**အပိုဒ် - ၇ ငှားရမ်းခပေးချေခြင်း**

၇-၁ အငှားချထားခြင်းခံရသူသည် အငှားချထားသည့် မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အအုံ (၂)လုံးအား ငှားရမ်းခြင်းအတွက်။ တစ်နှစ်လျှင် အဆောက်အအုံ (၂)လုံးအတွက် ငှားရမ်းခငွေကျပ် (၁.၆)သန်း (ကျပ်တစ်ဒသမခြောက်သန်းတိတိ)နှင့် မြေဧရိယာ ၂၃ရ၈ စတုရန်းမီတာ (အဆောက်အဦး ဧရိယာမပါ) အတွက် တစ်နှစ်လျှင် (၂၃ရ၈ စတုရန်းမီတာ×၄၅ဝ = ၁ဝရဝ၁ဝဝ/-) ငှားရမ်းခငွေ (၁.ဝရဝ၁)သန်း (ကျပ်တစ်ဒသမသုညခုနစ်သုညတစ်သန်းတိတိ)ဖြင့် စုစုပေါင်း ငှားရမ်းခငွေ တစ်နှစ်လျှင် (၂.၆ရဝ၁)သန်း (ကျပ်နှစ်ဒသမ ခြောက်ခုနစ်သုညတစ်သန်းတိတိ)ကို နှစ်စဉ်ကွဲဒိန်နှစ်အလိုက် သက်ဆိုင်ရာနှစ်၏ ပထမလ (၇)ရက်အတွင်း အငှားချထားသူသို့ ကြိုတင်ပေးချေရမည်။

၇-၂ ဤသဘောတူ စာချုပ်ဝင် ပုဂ္ဂိုလ်များသည် ငှားရမ်းခ နှုန်းထားများကို (၅)နှစ်တစ်ကြိမ် ပြန်လည် စိစစ် သုံးသပ်နိုင်ခွင့်ရှိသည်။ ယင်းသို့ ပြန်လည်စိစစ်ရာတွင် ပြီးခဲ့သော (၅)နှစ်ကာလအတွက် နှစ်စဉ် ငှားရမ်းခနှုန်းထား၏ (၁၅)ရာခိုင်နှုန်းထက် မပိုစေရန် သဘောတူညီကြပါသည်။

**အပိုဒ် - ၈ အငှားချထားသူ၏ တာဝန်ဝတ္တရားများ**

၈-၁ အငှားချထားသူသည် အောက်ပါ တာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(၁) အငှားချထားသည့် မြေအတွက် မြေခွန်များကို ပေးဆောင်ရမည်။

(၂) အငှားချထားခြင်းခံရသူ၏ ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်အတွက် ကူညီဖြည့်ဆည်း ပေးရမည်၊

(၃) လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာ ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက် ပေးရမည်။

(၄) အငှားချထားခြင်း ခံရသူက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက် ပေးရမည်။

(၅) အငှားချထားသည့် မြေတွင် အဆောက်အအုံများကို ပိုမိုတိုးတက်ကောင်းမွန်စေရေးအတွက် လိုအပ်သော မွမ်းမံပြင်ဆင်မှုများ ပြုလုပ်နိုင်ရန် အငှားချထားခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

**အပိုဒ် - ၉ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ**

၉-၁ အငှားချထားခြင်းခံရသူသည် အောက်ပါ တာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(၁) အငှားချထားခြင်း ခံရသူသည် နှစ်စဉ် ငှားရမ်းခငွေများကို ဤသဘောတူ စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့် ကာလအတွင်း အငှားချထားသူသို့ မပျက်မကွက် ပေးချေရမည်။

(၂) အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့် မြေပေါ်တွင် စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်ရာ၌ ပြည်ထောင်စု မြန်မာနိုင်ငံ တည်ဆဲဥပဒေများအရ လိုအပ်သော ခွင့်ပြုမိန့်များ၊ လိုင်စင်များ ရယူပြီး၊ လုပ်ကိုင်ဆောင်ရွက်ရမည်။

(၃) အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့် မြေပေါ်တွင် စက်ရုံ အဆောက်အအုံများကို ပြုပြင်မွမ်းမံ ပြင်ဆင်ခြင်း၊ တိုးချဲ့တည်ဆောက်ခြင်း၊ လမ်းဖောက်လုပ်ခြင်း၊ လျှပ်စစ်မီးနှင့် ရေရရှိရေး လုပ်ငန်းများ ဆောင်ရွက်ခြင်း စသည်တို့ကို မိမိ၏ ကုန်ကျစရိတ်ဖြင့် တာဝန်ယူ ဆောင်ရွက်ပေးရမည်၊

(၄) အငှားချထားသည့် မြေပေါ်တွင် အဆိုပြုလုပ်ငန်းအား ဆက်လက် လုပ်ကိုင်ရန် တစ်ဆင့်ငှားရမ်းခြင်း၊ ထပ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်း၊ ပေါင်နှံခြင်း စသည်တို့ကို လုံးဝမပြုလုပ်ရ၊

(၅) ဤသဘောတူစာချုပ်အား ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ရမည်၊

(၆) အငှားချထားစဉ် ကာလအတွင်း မြေခွန်မှအပ လုပ်ငန်းနှင့် သက်ဆိုင်သော အခြားအခွန်အခများကို အချိန်မှန်မှန် ပေးဆောင်ရမည်၊

(၇) ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ရရှိပြီးနောက် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ နှောင့်နှေးကြန့်ကြာမှုမရှိစေဘဲ စေလျင်စွာ ဆောင်ရွက် ရမည်။

## အပိုဒ် – ၁၀ အာမခံထားရှိခြင်း

၁၀–၁ အငှားချထားခြင်း ခံရသူသည် ဤသဘောတူ စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်ရာတွင် လုပ်ငန်း လိုအပ်ချက်အရ လိုအပ်သော အာမခံများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်။

## အပိုဒ် – ၁၁ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၁–၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူ စာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါ ဖြစ်စေ၊ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ ကုန်ဆုံးရပ်စဲသည့်နေ့မှ (၃)လ အတွင်း အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အအုံအပါအဝင် ယင်းနှင့် ဆက်စပ်နေသော ပစ္စည်းများအားလုံး (ယင်းပစ္စည်းများတွင် တပ်ဆင်ပစ္စည်းများ၊ စက်ကရိယာများပါဝင်ခြင်း မရှိစေရ။) ကို အငှားချထားသူသို့ ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အဖိုးစားနားမပါရှိပဲ ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။

## အပိုဒ် – ၁၂ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ

၁၂–၁ အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်အရ ခံစားခွင့်ရှိစေရမည်။

၁၂–၂ အငှားချထားခြင်းခံရသူသည်လုပ်ငန်းဆိုင်ရာ အခြားအခွန်အခများကို တည်ဆဲဥပဒေများပါ ပြဋ္ဌာန်းချက်နှင့်အညီ သတ်မှတ်ထားသည့် အတိုင်းနည်းလမ်းတကျ ပေးဆောင်ရမည်။

**အပိုဒ် – ၁၃ ဓါတ်သတ္တုအရင်းအမြစ်များ**

၁၃–၁ အငှားချထားသူသည် အငှားချထားသည့်မြေမှ ဤသဘောတူစာချုပ်ပါ အတိုင်းဆောင်ရွက်ရန် အငှားချထားစဉ် ကာလအတွင်း မမျှော်လင့်ပဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ အဖိုးတန် ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများ တွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားသူက ပိုင်ဆိုင်ရမည်။

၁၃–၂ အငှားချထားသူသည် အဆိုပါ ပစ္စည်းများကို သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီး၊ မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေရမည်။

**အပိုဒ် – ၁၄ လုပ်ငန်းရပ်စဲခြင်း**

၁၄–၁ ဤသဘောတူစာချုပ်ကို ပြုလုပ်ချုပ်ဆိုကြသူများသည် အောက်ဖော်ပြပါ အကြောင်းချင်းရာ တစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင် လုပ်ငန်းရပ်စဲခွင့် ရှိစေရမည်၊

(၁) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(၂) ပဋိညာဉ်စာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များ ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(၃) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်း မပြုနိုင်သော ဖြစ်ရပ်များ ပေါ်ပေါက်လာပြီး အဆိုပါဖြစ်ရပ်များသည် (၆)လတာကာလအထိ ကြာမြင့်ခြင်း၊

(၄) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည် ဖော်နိုင်စွမ်းမရှိခြင်း၊

၁၄–၂ ဤသဘောတူစာချုပ်ပါ လုပ်ငန်းကို ရပ်စဲလိုကြောင်း နှစ်ဦးနှစ်ဖက် သဘောဆန္ဒဖြင့်တင်ပြလာလျှင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်စေရမည်။

**အပိုဒ် – ၁၅ မြေသို့ပြန်လည်ဝင်ရောက်နိုင်ခွင့်**

၁၅–၁ အငှားချထားခြင်းခံရသူက ဤစာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန် **(သို့မဟုတ်)** လိုက်နာရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သော နို့တစ်စာပါ ကာလများအတွင်း မဆောင်ရွက်မှု **(သို့မဟုတ်)** မလိုက်နာမှုကို ပြင်ဆင်ပေးရန် ပျက်ကွက်လျှင်လည်းကောင်း၊ အငှားချထားသူသည် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးအပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့် ရှိရမည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဘက် သဘောတူညီကြပါသည်။ ဤသို့စာချုပ်ရပ်စဲခြင်း၊ မြေသို့ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရှိမည့် အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

**အပိုဒ် – ၁၆ လူတို့မစွမ်းဆောင်နိုင်သော ဘေးအန္တရာယ်များ**

၁၆–၁ ဤသဘောတူ စာချုပ်ဝင် ပုဂ္ဂိုလ်များသည် စာချုပ်ပါ တာဝန်ဝတ္တရားများကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော မလွန်ဆန်နိုင်ဖွယ်ရာ ဘေးအန္တရာယ်ဖြစ်ရပ်များ ပေါ်ပေါက်လာပါက စာချုပ်ဝင်ပုဂ္ဂိုလ် များအပေါ် တာဝန်ကျရောက်ခြင်း မရှိစေဘဲ အောက်ပါ စည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(၁) စာချုပ်ဝင်နှစ်ဦး နှစ်ဖက်အနက် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်သတ္တရားများကို ဆောင်ရွက်ရန် သို့တည်းမဟုတ် ဤစာချုပ်အရ အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့် အခြေအနေကို ဖြစ်ပေါ်သက်ရောက်စေသော လူတို့ မတွန်းလှန်နိုင်သည့် မလွန်ဆန်နိုင်ဖွယ်ရာ ဘေးအန္တရာယ်များ ကျရောက်ခဲ့လျှင် အဆိုပါဘေးအန္တရာယ်ကို ရင်ဆိုင်ရသည့် စာချုပ်ဝင် တစ်ဖက်ပုဂ္ဂိုလ်သည် ဘေးအန္တရာယ် ကျရောက်သည့်နေ့မှ (၁၄)ရက်အတွင်း အဆိုပါ ဘေးအန္တရာယ်နှင့် ပတ်သက်သော အသေးစိတ် အချက်အလက်များကို အခြားတစ်ဖက်သို့ စာဖြင့် အသိပေး အကြောင်းကြားရမည်။ အခြားတစ်ဖက်၏ လက်ခံ အတည်ပြုချက်ဖြင့် လုပ်ငန်းများ ရပ်ဆိုင်းထား ခွင့်ရှိစေရမည်။ မစွမ်းဆောင်နိုင်မှု ဆက်လက်ပေါ်ပေါက်နေစဉ် ကာလအတွင်း ရပ်နားထားရသည့် အဆိုပါစာချုပ်ဝင် တစ်ဖက်ပုဂ္ဂိုလ်၏ တာဝန်များအား ကာလရှည်ကြာသော အခြေအနေမှတစ်ပါး မစွမ်းဆောင်နိုင်သည့် အခြေအနေများကို အတတ်နိုင်ဆုံး အမြန်ဆုံး ဖယ်ရှားပစ်ရမည်။ လူတို့မစွမ်း ဆောင်နိုင်သော ဘေးအန္တရာယ်ကြောင့် ပေါ်ပေါက်လာသည့် နှောင့်နှေးကြန့်ကြာမှုများအတွက် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်စလုံးတွင် တာဝန်မရှိစေရ။ ထို့အပြင် ယင်းကာလကို စာချုပ်ပါ လုပ်ငန်း သက်တမ်းကာလတွင် ထည့်သွင်း ရေတွက်ခြင်းမပြုရ။

(၂) ကြိုတင် မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော လူတို့ မစွမ်းဆောင်နိုင်သည့် မလွန်ဆန်နိုင်ဖွယ်ရာ ဘေးအန္တရာယ် ဖြစ်ရပ်များဆိုသည်မှာ–
ဘုရားသခင်အလိုကျ ဖြစ်ပေါ်လာသော ကိစ္စရပ်များ၊ အစိုးရ၏ တားမြစ်ချက်များ၊ သပိတ်မှောက်မှုများ၊ စက်မှုလုပ်ငန်းချို့ယွင်းချက်များ စစ်ဖြစ်ပွားခြင်း၊ စီးပွားရေး ပိတ်ဆို့ခြင်း၊ အဓိကရုဏ်းများ၊ သူပုန်ထခြင်း၊ ကပ်ရောဂါများ ဖြစ်ပွားခြင်း ဗုံးပေါက်ကွဲခြင်း၊ မီးလောင်ခြင်း၊ ရေလွှမ်းမိုးခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းများ ကျရောက်ခြင်း၊ မိုးကြိုးပစ်ခြင်း စသည်တို့အပြင်၊ စာချုပ်ဝင် တစ်ဦးဦး၏ ပေါ့ဆမှု၊ ပျက်ကွက်မှုကြောင့် ဖြစ်ပေါ်လာခြင်းမဟုတ်ဘဲ မည်သူမျှတားဆီးထိန်းချုပ်၍မရသော သဘာဝ ဘေးအန္တရာယ် ပေါ်ပေါက်လာသည့် ဖြစ်ရပ်များ ဖြစ်ရမည်။

(၃) လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း အဆိုပါ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် လုပ်ငန်းရပ်စဲလိုလျှင် အခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ အခြားတစ်ဖက်၏ စာဖြင့်ခွင့်ပြုချက်မရရှိဘဲ လုပ်ငန်းရပ်ဆိုင်းခြင်းမပြုရ။

(၄) အဆိုပါ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် သဘောတူစာချုပ်ကို ပြင်ဆင်ရန် ဆုံးဖြတ်ခွင့်ရှိစေရမည်။ ထိုသို့ ပြုလုပ်ရာတွင် စာချုပ်ဝင်ပုဂ္ဂိုလ်များ၏ တာဝန်ဝတ္တရားများသည် သဘောတူစာချုပ်ပါ စည်းကမ်းချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

## အပိုဒ် – ၁၈ အငြင်းပွားမှုများ ဖြေရှင်းခြင်း

၁၈–၁ ဤသဘောတူစာချုပ်ဝင် နှစ်ဦးနှစ်ဖက် ပုဂ္ဂိုလ်များအကြား အငြင်းပွားမှု တစ်စုံ တစ်ရာ ပေါ်ပေါက်လာလျှင် ချစ်ကြည်ရင်းနှီးစွာ ညှိနှိုင်းဆွေးနွေး ဖြေရှင်းရမည်။ နှစ်ဦးနှစ်ဖက် ချစ်ကြည်ရင်းနှီးစွာ ညှိနှိုင်းဆွေးနွေးခြင်းဖြင့် ပြေငြိမ်းမှု မရရှိပါက ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း အနုညာတစီရင်

ဆုံးဖြတ်ခြင်းဖြင့် ဖြေရှင်း ဆောင်ရွက်ရမည်။ ထိုသို့ဖြေရှင်းရာတွင် နှစ်ဦးနှစ်ဖက်မှ ခုံသမာဓိ လူကြီးတစ်ဦးစီကို ခန့်အပ်ပြီး အငြင်းပွားမှုကို ဖြေရှင်းရမည်။ ထိုခုံသမာဓိလူကြီးများက အငြင်းပွားမှုကို မဖြေရှင်းနိုင်မှသာ အဆိုပါ ခုံသမာဓိလူကြီးများက သဘောတူပြီး အမည်စာရင်းတင်သွင်းသော ဒိုင်လူကြီးသို့ လွှဲအပ်၍ ယင်းဒိုင်လူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက်စလုံးမှ လက်ခံရမည်။

၁၇-၂ ဤသဘောတူ စာချုပ်နှင့် စပ်လျဉ်း၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်သည် မကျေအေးနိုင်သည့် အငြင်းပွားမှုများ ရှိပါက ခုံသမာဓိလူကြီးမှ ဆုံးဖြတ်ရန် ကျင့်ထုံးမှာ အနုညာတစီရင် ဆုံးဖြတ်ခြင်း အက်ဥပဒေ (၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအက်ဥပဒေအမှတ် - ၄ ) နှင့်အညီ ဖြစ်စေရမည်။ ခုံသမာဓိအဖွဲ့ ဆုံးဖြတ်ရမည့်နေရာမှာ ရန်ကုန်မြို့၌သာ ဖြစ်ရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံ ပေးချေရပါမည်။

## အပိုဒ် - ၁၈ စာချုပ်အားပြန်လည်ပြင်ဆင်စေ့စပ်ညှိနှိုင်းခြင်း

၁၈-၁ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများ အမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ၊ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်သည့်အခါ စာချုပ်ဝင် ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ စည်းကမ်းချက်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ရယူ၍ လိုအပ်သလို ပြန်လည်ပြင်ဆင် စေ့စပ်ညှိနှိုင်း ဆောင်ရွက်ရမည်။

## အပိုဒ် - ၁၉ လျှို့ဝှက်ချက်

၁၉-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုး ချုပ်ဆိုကြသည့် နှစ်ဦးနှစ်ဖက်စလုံးသည် အရေးကြီးသောစာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို အခြားတတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးခြင်းမပြုရ၊ သို့ရာတွင် ကုမ္ပဏီ၏ အကျိုးစီးပွားအလို့ငှာ ဒါရိုက်တာအဖွဲ့၏ သဘောတူဆုံးဖြတ်ချက်ဖြင့်အခြား အဖွဲ့အစည်းသို့ လွှဲပြောင်းပေးနိုင်ခွင့် ရှိစေရမည်။

## အပိုဒ် - ၂၀ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၂၀-၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာ ထိန်းသိမ်းကာကွယ်စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့ပြင် လေထု၊ ရေထုနှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းများအား ကာကွယ် ထိန်းချုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများ သန့်စင်စေနိုင်သော စက်များတတ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုများကို မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့်ပစ်သည့် အစိတ်အပိုင်းများကို အန္တရာယ်ကင်းရှင်းစေရေးဆိုင်ရာ လိုအပ်သော အကာအကွယ်များ၊ အစီအစဉ်များ ဆောင်ရွက်ထားရှိရမည်။

## အပိုဒ် – ၂၁ အကြောင်းကြားစာ

၂၁–၁ နို့တစ်စာများ သို့မဟုတ် အခြားအချက်အလက် အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့် ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေ၊ ရေးသားပြီး စာတိုက်မှတ်ပုံတင် ချောစာဖြင့်ဖြစ်စေ၊ တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်(စ်)ဖြင့်ဖြစ်စေ အပြည်ပြည်ဆိုင်ရာ ဆက်သွယ်ရေးနည်းစနစ်ဖြင့်ဖြစ်စေ၊ သက်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည်။ ဆက်သွယ်နိုင်ရန် လိပ်စာမှာ ဤစာချုပ်တွင် ဖော်ပြပါရှိသော အောက်ဖော်ပြပါ လိပ်စာအတိုင်း ဖြစ်သည်။

(၁) **"အငှားချထားသူ" အတွက်** –

(၁) အမည် ................................................

(၂) လိပ်စာ................................................

................................................

(၃) ဖုံးအမှတ်................................................

(၄) တဲလက်စ်အမှတ် ................................

(၂) **"အငှားချထားခြင်းခံရသူ" အတွက်** –

(၁) အမည် ................................................

(၂) လိပ်စာ................................................

................................................

(၃) ဖုံးအမှတ်................................................

(၄) တဲလက်စ်အမှတ် ................................

၂၁–၂ ယခုကဲ့သို့ စာရွက်စာတမ်းများကို ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှ လက်ခံ ရရှိကြောင်း အထောက်အထား တစ်စုံတစ်ရာ ရရှိပြီးမှသာ ပေးပို့ခြင်းကို အတည်ပြုနိုင်သည်၊ အကယ်၍ လိပ်စာအပြောင်းအလဲရှိပါက စာဖြင့် အခြားတစ်ဖက်သို့ ရေးသားအကြောင်းကြားရမည်။

## အပိုဒ် – ၂၂ အထွေထွေ

၂၂–၁ ဤသဘောတူစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသည့် နောက်ဆက်တွဲများ နောက်ဆက်တွဲအားလုံးကို ဤစာချုပ်၏ အရေးကြီး အစိတ်အပိုင်းများအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

၂၂–၂ ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူ ခွင့်ပြုမိန့် ရရှိပြီးမှသာ အတည်ဖြစ်စေရမည်။

ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦး နှစ်ဖက်စလုံး၏ တရားဝင်ကိုယ်စားလှယ်များက မိမိတို့ကိုယ်တိုင် ဖတ်ရှု သိရှိ နားလည်ကြပြီးဖြစ်၍ အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရန်ကုန်မြို့၌ အထက်ပါ ခုနှစ်၊ လ၊ ရက်နေ့တွင် အတည်ပြု လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

| "အငှားချထားသူ၏ကိုယ်စား" | အငှားချထားခြင်းခံရသူ၏ကိုယ်စား |
| --- | --- |
| ( ညွှန်ကြားရေးမှူးချုပ် )<br>ငါးလုပ်ငန်းဦးစီးဌာန | ( မန်နေးဂျင်းဒါရိုက်တာ )<br>MYEIK ZENITH INDUSTRIAL CO., LTD. |

"အသိသက်သေများ"

| | |
| --- | --- |
| (၁) အမည်၊ ........................................ | (၂) အမည်၊ ........................................ |
| ရာထူး ........................................ | ရာထူး ........................................ |
| လိပ်စာ ........................................ | လိပ်စာ ........................................ |
| ........................................ | ........................................ |